ဤခွင့်ပြုမိန့်အရ **ဝန်ဆောင်မှုရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ်** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့ (န်စ်) အင်(န်)တာ(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗာစတီ ကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့ (န်စ်) အင်(န်)တာ(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗာစတီ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် သက်ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(င) Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့ (န်စ်) အင်(န်)တာ(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗာစတီ ကုမ္ပဏီ လီမိတက်)သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(စ) Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့ (န်စ်) အင်(န်)တာ(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗာစတီ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသောရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်) ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့ (န်စ်) အင်(န်)တာ(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗာစတီ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင် ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့်ပုံစံဖြင့် တင်ပြရမည်။

၃။ Science and Tech International Myanmar University Co., Ltd. (ဆိုင်းယဲ့(န်စ်) အင်(န်)တာ(ခ်) အင်တာနေရှင်နယ် မြန်မာယူနီဗာစတီ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ (ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင်သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာနသတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။